ကုမ္ပဏီအမည်　　- IM Ringier Co., Ltd.

လုပ်ငန်း　　- **IM Ringier Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Web Portal (သတင်း ဝက်ဘ်ဆိုက်) လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီဆောင်ရွက်ခွင့် ပြုပါရန်အဆိုပြုတင်ပြလာခြင်းကိစ္စ**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြည်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှWeb Portal (သတင်းဝက်ဘ်ဆိုက်) လုပ်ငန်းဆောင်ရွက်ခွင့်နှင့်စပ်လျဉ်း၍လမ်းညွှန်မှုခံယူတင်ပြလာခြင်း | ၁-၉-၂၀၁၅ | | |
| ၂ | ကော်မရှင်ဥက္ကဋ္ဌထံတင်ပြလမ်းညွှန်မှုခံယူခြင်း | ၁၁-၉-၂၀၁၅ | | |
| ၃ | ပြန်ကြားရေးဝန်ကြီးဌာနသို့သဘောထားတောင်းခံခြင်း | ၂၁-၉-၂၀၁၅ | ၂၉-၉-၂၀၁၅ | |
| ၄ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁-၁၀-၂၀၁၅ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၃၆/၂၀၁၅ သို့ တင်ပြခြင်း | ၅-၁၀-၂၀၁၅ | | |
| ၆ | (၁၈/၂၀၁၅) MIC အစည်းအဝေးသို့တင်ပြလမ်းညွှန်မှုခံယူခြင်း | ၂၃-၁၀-၂၀၁၅ | | |
| ၇ | ကော်မရှင်ဥက္ကဋ္ဌထံသို့ တင်ပြလမ်းညွှန်မှုခံယူခြင်း | ၃၀-၁၀-၂၀၁၅ | ကွန်ပျူတာပညာရှင်အသင်း၏သဘောထားဖြင့်ဆောင်ရွက်ရန်မှတ်ချက်ပြုခြင်း | |
| ၈ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၃-၁၁-၂၀၁၅ | ၃-၁၂-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန | ၃-၁၁-၂၀၁၅ | ၂၉-၁၂-၂၀၁၅ | |
| | (ဂ) ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန | ၃-၁၁-၂၀၁၅ | ၂၄-၁၂-၂၀၁၅ | |
| | (ဃ) မြန်မာနိုင်ငံကွန်ပျူတာပညာရှင်အသင်း | ၁၅-၁၂-၂၀၁၅ | ၂၃-၁၂-၂၀၁၅ | |
| ၉ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်ပေးပို့ခြင်း | ၉-၁၁-၂၀၁၅ | | |
| ၁၀ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၁၉-၁-၂၀၁၆ | | |
| ၁၁ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း (၂/၂၀၁၆)MIC | ၂၂-၁-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက်　၁၀၉ ရက်** | | | |

| | |
|---|---|
| ကုမ္ပဏီအမည် | IM Ringier Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဌာန် | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | **Web Portal (သတင်းဝက်ဘ်ဆိုက်လုပ်ငန်း)** |
| တည်နေရာ | တိုက်အမှတ် (E)၊ ပထမထပ်၊ ဒိုင်းမွန်းကွန်ဒို၊ အမှတ် (၁၄၇)၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | အမေရိကန် ဒေါ်လာ ၁.၆၉ သန်း |
| ရောင်းချမည့်စနစ် | ပြည်တွင်းသို့ ၁၀၀ % ရောင်းချခြင်း |
| လုပ်ငန်းသက်တမ်း | ၂၀ နှစ် |
| အရင်းကြေကာလ | ၇ နှစ် |
| IRR | ၁၈ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ **Cost & Benefit** ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၂၀ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | - |
| ၄ | ဝင်ငွေခွန် | ကျပ် ၀.၇၉ သန်း | ကျပ် ၁.၇၆ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၀.၆၃ သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | - |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ် သိန်း(၂၀) ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၁၃) ဦး |
| ၈ | CSR (၁%) | - | ကျပ် ၀.၆၇ သန်း |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | - | ကျပ် ၁၄.၀၆ သန်း<br>ပြည်တွင်း လုပ်သား (၁၂) ဦး<br>ပြည်ပ ၁ ဦး<br>အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | **ကျပ် ၃.၇၉ သန်း** | **ကျပ် ၁၈.၃၂ သန်း** |
| | | **၁ း ၅** | |

# IM Ringier Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Web Portal (သတင်းဝက်ဘ်ဆိုက်)လုပ်ငန်းနှင့်စပ်လျဉ်းသည့်အဓိကအချက်များ

<table>
<tr><td>၁။</td><td>ကုမ္ပဏီအမည်/ ကမကထပြုသူ</td><td>- IM Ringier Co., Ltd.<br>- ဦးသောင်းစုငြိမ်း</td></tr>
<tr><td>၂။</td><td>ရင်းနှီးမြှုပ်နှံမှုပုံစံ</td><td>- ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- Information Matrix Co., Ltd.(မြန်မာ) အစုရှယ်ယာ ၆၀ %<br>Ringier AG Co., Ltd. (ဆွစ်ဇာလန်နိုင်ငံ) အစုရှယ်ယာ ၄၀ %</td></tr>
<tr><td>၃။</td><td>အဆိုပြုလုပ်ငန်းအမျိုးအစား</td><td>- Web Portal (သတင်းဝက်ဘ်ဆိုက်လုပ်ငန်း)</td></tr>
<tr><td>၄။</td><td>လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း</td><td>- တိုက်အမှတ် (E)၊ ပထမထပ်၊ ဒိုင်းမွန်းကွန်ဒို၊ အမှတ် (၄၉၇)၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။</td></tr>
<tr><td>၅။</td><td>စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br><br>ထည့်ဝင်သည့်အမျိုးအစား<br>ငွေသား</td><td>- အမေရိကန်ဒေါ်လာ ၁.၆၉ သန်း<br>(ဆွစ်ဇာလန်နိုင်ငံ Ringier AG Co., Ltd. မှ ထည့်ဝင်ငွေ US$ ၀.၆၈၁၃၀၆ သန်း နှင့် မြန်မာနိုင်ငံ Information Matrix Co., Ltd. မှ US$ ၁.၀၁၃၇၅၉ သန်း ထည့်ဝင်မည်ဖြစ်ပါသည်။)<table><tr><th>နိုင်ငံခြား(US$ သန်း)</th><th>မြန်မာ(US$ သန်း)</th><th>စုစုပေါင်း(US$ သန်း)</th></tr><tr><td>၀.၆၈၁၃၀၆</td><td>၁.၀၁၃၇၅၉</td><td>၁.၆၉၅၀၆၅</td></tr></table>စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏ အမေရိကန်ဒေါ်လာ ၁.၆၉ သန်းတွင် ငွေသားအမေရိကန်ဒေါ်လာ ၁.၁၄၅ သန်းနှင့် ချေးငွေ ၀.၅၅ သန်းဖြစ်ပါသည်။</td></tr>
<tr><td>၆။</td><td>တည်ဆောက်ရေးကာလ</td><td>- NA</td></tr>
<tr><td>၇။</td><td>ရင်းနှီးမြှုပ်နှံမှုသက်တမ်း</td><td>- ၂၀ နှစ်</td></tr>
<tr><td>၈။</td><td>ကုမ္ပဏီ၏ဝင်ငွေ(ဆ၄မနှစ်)</td><td>- US$ ၂.၂၈၅၆ သန်း</td></tr>
<tr><td>၉။</td><td>ကုမ္ပဏီ၏အသုံးစရိတ်(ဆ၄မနှစ်)</td><td>- US$ ၁.၃၇၅၉ သန်း</td></tr>
<tr><td>၁၀။</td><td>အသားတင်အမြတ် (ဆ၄မနှစ်)</td><td>- US$ ၀.၉၀၉၇ သန်း</td></tr>
<tr><td>၁၁။</td><td>နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (ဆ၄မနှစ်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်</td><td><br><br>- ၀.၃၀၃၂ သန်း<br>- ၀.၁၁၄၃ သန်း</td></tr>
<tr><td>၁၂။</td><td>ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br>ပြည်ပ</td><td>- ၁၃ ဦး<br>၁၂ ဦး (တစ်လလျှင် ပြည်တွင်းလုပ်သားတစ်ဦး၏ အနိမ့်ဆုံး လစာမှာUS$ ၅၈၅၊ အမြင့်ဆုံး လစာမှာ US$ ၁,၄၃၀ ဖြစ်ပါသည်။) (၉၈ %)<br>၁ ဦး (တစ်လလျှင် ပြည်ပလုပ်သားတစ်ဦး၏ လစာမှာ US$ ၁,၃၀၀ ဖြစ်ပါသည်။) (၂ %)</td></tr>
</table>

| | | |
|---|---|---|
| ၁၃။ | အရင်းကြေကာလ | - ၇ နှစ် |
| ၁၄။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၈ % |
| ၁၅။ | ငွေကြေးအထောက်အထား | - Information Matrix Co., Ltd. အမည်ဖြင့် ကမ္ဘောဇဘဏ် (ကျွန်းတောလမ်းဘဏ်ခွဲ) ၌ ၂၀၁၅ ခုနှစ်၊ ဇူလိုင် လ ၁ ရက်နေ့ ရက်စွဲဖြင့် မြန်မာကျပ်ငွေ (၉.၃၃၅ သန်း) ရှိကြောင်းတင်ပြထားပြီး နိုင်ငံခြား ငွေအထောက်အထားတင်ပြထားခြင်းမရှိပါ။ |
| ၁၆။ | နှစ်ဦးသဘောတူစာချုပ်များပါအဓိကအချက်များ | ဆွစ်ဇာလန်နိုင်ငံ Ringier AG Co., Ltd. နှင့် မြန်မာနိုင်ငံ Information Matrix Co., Ltd. တို့ အကြားချုပ်ဆိုမည့် နှစ်ဦးသဘောတူစာချုပ်(မူကြမ်း)အရ-<br>(က) Information Matrix Co., Ltd. မှ ပြည်တွင်းဈေးကွက်နှင့် စပ်လျဉ်းသည့်အချက်များထောက်ပံ့ခြင်း၊ ကုမ္ပဏီ၏ လက်ရှိထုတ်ဝေလျက်ရှိသည့် 7 Day နေ့စဉ်ထုတ် သတင်းစာနှင့် အပတ်စဉ်ထုတ်ဂျာနယ်၊ Internet ဂျာနယ်၊ မြန်မာ People မဂ္ဂဇင်းတို့မှ သတင်းဆောင်းပါး၊ ဓာတ်ပုံ၊ ဗွီဒီယိုများ ထောက်ပံ့ပေးခြင်း၊ ကုမ္ပဏီမှ ထုတ်ဝေလျက်ရှိသော သတင်းစာ၊ ဂျာနယ်၊ မဂ္ဂဇင်းတို့တွင် Duwun Web Portal လုပ်ငန်းကြော်ငြာအား ကြော်ငြာခနှုန်း ၉၀ % လျှော့ပေး၍ ၄၂ လကြာ ကြော်ငြာ ထည့်သွင်းပေးခြင်း၊ အခြေခံ အဆောက်အအုံ (ရုံးခန်းနေရာ) နှင့် ပစ္စည်းကိရိယာများ ထောက်ပံ့ပေးခြင်း၊ newsroom အား စီမံခန့်ခွဲပေးခြင်း၊ magagement team သစ်ဖွဲ့စည်းခန့်ထားခြင်းတို့ကို ဆောင်ရွက်မည်ဖြစ်ပါသည်။<br>(ခ) Ringier AG Co., Ltd. မှ newsroom management အတွက်လိုအပ်သော ကျွမ်းကျင်ပညာရှင်များ ထောက်ပံ့ပေးခြင်း (software installation၊ CMS အသစ်တည်ထောင်ရန်အတွက် လိုအပ်သောငွေကြေး လိုင်စင်ကြေးများ စိုက်ထုတ်ပေးခြင်း၊ နည်းပညာလွှဲပြောင်းပေးခြင်း)၊ Hosting ကိစ္စရပ်များ၊ ပြည်တွင်းလုပ်ငန်းလည်ပတ်ရန်အတွက် အတိုးမဲ့ချေးငွေချေးပေးခြင်း၊ သင်တန်းပေးခြင်းတို့ကို ဆောင်ရွက်ပေးမည်ဖြစ်ပါသည်။ |
| ၁၇။ | အခြားတင်ပြချက်များ | (က) အဆိုပြုချက်နှင့်အတူ IM Ringier Co., Ltd. ၏ MOA , AOA (မူကြမ်း) နှင့် ဒါရိုက်တာစာရင်း တို့အား တင်ပြထား |

| | | |
|---|---|---|
| | | ပါသည်။<br>(ခ) ဝန်ထမ်းလုပ်သားများ၏ လူမှုဖူလုံရေး၊ သက်သာချောင်ချိမှု ဆောင်ရွက်မည့်အစီအစဉ်၊ မီးဘေးအန္တရာယ် ကြိုတင် ကာကွယ်ရေးအစီအစဉ်၊ ဝန်ထမ်းများ၏ လုပ်ခလစာအပေါ် ဝင်ငွေခွန် ထမ်းဆောင်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်များ ကိုတင်ပြထားပါသည်။<br>(ဂ) CSR အစီအစဉ်အတွက် ကုမ္ပဏီမှ နှစ်စဉ်အသားတင် အမြတ်ငွေ၏ ၁% ကိုသုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါ သည်။<br>(ဃ) Ringier AG Co., Ltd. နှင့် IM Ringier Co., Ltd တို့ ချုပ်ဆိုမည့် Loan Agreement (မူကြမ်း) ကိုတင်ပြထား ပါသည်။ |
| ၁၈။ | စိစစ်တင်ပြချက် | (က) နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ Web Portal (သတင်း ဝက်ဘ်ဆိုက်)လုပ်ငန်း ဆောင်ရွက်ခွင့် အဆိုပြုလာခြင်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ဥက္ကဋ္ဌထံသို့ တင်ပြလမ်းညွှန်မှုခံယူခဲ့ပြီး ကော်မရှင်ဥက္ကဋ္ဌမှ ပြန်ကြားရေး ဝန်ကြီးဌာန၏ သဘောထားဖြင့်သာ အဆိုပြုလွှာ လက်ခံ စဉ်းစားနိုင်ရေး ဆက်လက်ဆောင်ရွက်ရန် မိန့်မှတ်ချက်အရ ပြန်ကြားရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံ ခဲ့ပြီး ပြန်ကြားရေးဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်း ဆောင်ရွက် ခြင်းနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း သဘော ထားမှတ်ချက် ပြန်ကြားထားပါသည်။<br>(ခ) အဆိုပြုလွှာတင်ပြလာခြင်းအား ၂၀၁၅ ခုနှစ်၊ အောက်တိုဘာ လ ၂၃ ရက်နေ့တွင် ကျင်းပသော(၁၈/၂၀၁၅) ကြိမ်မြောက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ တင်ပြ ခဲ့ပြီး အစည်းအဝေးမှ ကွန်ပျူတာပညာရှင်အသင်းနှင့် တွေ့ဆုံဆွေးနွေး၍ ဆက်လက်ဆောင်ရွက်ရန် ဆုံးဖြတ်ချက် အရ ကွန်ပျူတာပညာရှင်အသင်းသို့ သဘောထား မှတ်ချက် တောင်းခံခဲ့ပြီး ကွန်ပျူတာပညာရှင်အသင်းမှ ကွန်ပျူတာ နည်းပညာရှုထောင့်အရ သဘောထားမှတ်ချက်ပေးရန် မရှိပါ ကြောင်း ပြန်ကြားထားပါသည်။<br>(ဂ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၄ ခုနှစ်၊ ဩဂုတ် လ ၁၄ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ အရ Web Portal (သတင်းဝက်ဘ်ဆိုက်) လုပ်ငန်းသည် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်မပြုသည့် စီးပွားရေးလုပ်ငန်း |

| | | |
|---|---|---|
| | | အမျိုးအစားများစာရင်း၊ နိုင်ငံသား နှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများ စာရင်းတွင် ပါဝင်ခြင်းမရှိကြောင်း၊ သတင်းမီဒီယာ ဥပဒေ၊ ပုံနှိပ်ခြင်းနှင့် ထုတ်ဝေခြင်းလုပ်ငန်း ဥပဒေတို့အရ ဆောင်ရွက်နိုင်သည့် လုပ်ငန်းဖြစ်သည်ကို တွေ့ရှိရပါကြောင်း စိစစ် ရပါသည်။<br>(ဃ) စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏ အမေရိကန်ဒေါ်လာ ၁.၆၉ သန်းဖြစ်၍ ငွေသားအမေရိကန်ဒေါ်လာ ၁.၁၄၅ သန်းနှင့် ချေးငွေ ၀.၅၅ သန်းဖြစ်ပါသည်။<br>(င) ဝင်ငွေ၊ နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်နှင့် အရင်းအနှီး အပေါ် အကျိုးပြန်ပေါ်နှုန်းတို့မှာ ကုမ္ပဏီမှ တင်ပြချက်အရ ဖော်ပြထားခြင်းသာ ဖြစ်ပါသည်။<br>(စ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက်လိုအပ်သော ရုံးသုံး ပစ္စည်း၊ ပရိဘောဂများအား ပြည်တွင်းမှ ဝယ်ယူအသုံးပြု မည်ဖြစ်ကြောင်း၊ ပြည်ပမှ စက်ပစ္စည်းကိရိယာများ တင်သွင်း ရန်မရှိကြောင်း တွေ့ရှိပါသည်။<br>(ဈ) အဆိုပြုလုပ်ငန်းနှင့် အလားတူလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးထားခြင်း မရှိ သေးကြောင်း စိစစ်တင်ပြအပ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၅ (အ)/ ၀၁၀/ ၂၀၁၆ (၀၂၉ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီ လ ၁၉ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
## တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **IM Ringier Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Web Portal (သတင်းဝက်ဘ်ဆိုက်) လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံ Information Matrix Co.,Ltd.မှ ၆၀% နှင့် ဆွစ်ဇာလန်နိုင်ငံ Ringier AG Co., Ltd. မှ ၄၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် IM Ringier Co., Ltd. တည်ထောင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ပြည်လမ်း၊ တိုက်အမှတ်-E၊ ဒိုင်းမွန်းကွန်ဒို ပထမထပ်၊ အမှတ်(၄၉၇) တွင် မြန်မာနှင့်ကမ္ဘာတစ်ဝန်းမှ ဖျော်ဖြေရေး၊ အားကစား၊ Lifestyle Fashion၊ ကျန်းမာရေးအထူးဆောင်းပါးနှင့် သတင်းများကို သွက်လက်လျင်မြန်စွာ တင်ပြပေးခြင်း၊ မြန်မာနိုင်ငံအတွင်း ရှိ အင်တာနက်အသုံးပြုသူ စာဖတ်ပရိတ်သတ်များအတွက် Entertainment၊ knowledge နှင့် new content များကို တင်ဆက်ပေးမည့် Web Portal (သတင်းဝက်ဘ်ဆိုက်) လုပ်ငန်းကို နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြ လာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ အခန်းပိုင်ရှင်ဖြစ်သော ဒေါ်သန်းသန်းနွဲ့ နှင့် ဒေါ်စုငြိမ်းအေး IM Ringier Co., Ltd. တို့ အကြားချုပ်ဆိုမည့် အခန်းငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊ အခန်း ပိုင်ဆိုင်မှုအထောက်အထားများ၊ Ringier AG Co., Ltd. နှင့် IM Ringier Co., Ltd တို့ ချုပ်ဆိုမည့် Loan Agreement (မူကြမ်း)၊ ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းတို့ကို ပူးတွဲတင်ပြ ထားပါသည်။

၃။ နှစ်စဉ် အခန်းငှားရမ်းခအနေဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ပြည်လမ်း၊ တိုက်အမှတ်-E၊ ဒိုင်းမွန်းကွန်ဒို ပထမထပ်၊ အမှတ်(၄၉၇) ရှိ အခန်း ဧရိယာ ၅၀၀ စတုရန်းပေ အား တစ်လ တစ်စတုရန်းပေလျှင် အမေရိကန်ဒေါ်လာ ၃ ဒေါ်လာနှုန်းနှင့် တစ်နှစ်လျှင် အမေရိကန် ဒေါ်လာ ၁၈,၀၀၀ နှုန်းဖြင့် ငှားရမ်းဆောင်ရွက်မည် ဖြစ်ပါကြောင်း (၁၀) နှစ်သက်တမ်းရှိ အခန်း ငှားရမ်းခြင်းစာချုပ် (မူကြမ်း) အား ပူးတွဲတင်ပြထားပါသည်။

၄။ လုပ်ငန်းသက်တမ်းကာလမှာ ကနဦး ၂၀ နှစ် ဖြစ်ပါသည်။ ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီး ၁ လ အတွင်း လုပ်ငန်းစတင်ဆောင်ရွက်မည်ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၁.၆၉ သန်း ဖြစ်ပြီး ဆွစ်ဇာလန်နိုင်ငံ Ringer AG Co., Ltd. မှ ထည့်ဝင်ငွေ US$ ၆၈၁,၃၀၆ နှင့် မြန်မာနိုင်ငံ Information Matrix Co., Ltd. မှ US$ ၁,၀၁၃,၇၅၉ ထည့်ဝင်မည်ဖြစ်ပါသည်။ စုစုပေါင်း

ရင်းနှီးမြှုပ်နှံမှု ပမာဏ အမေရိကန်ဒေါ် ၁.၆၉ သန်းတွင် ဆွစ်ဇာလန်နိုင်ငံ Ringier AG Co., Ltd. မှ ဖက်စပ်ကုမ္ပဏီ IM Ringier Co., Ltd. သို့ ချေးမည့် အတိုးမဲ့ချေးငွေ အမေရိကန် ဒေါ်လာ ၀.၅၅ သန်း ပါဝင်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၁၂) ဦး နှင့် ပြည်ပမှ ကျွမ်းကျင် ဝန်ထမ်း(၁) ဦး၊ စုစုပေါင်း (၁၃) ဦးခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၅၈၅ ဖြစ်ပြီး အမြင့်ဆုံးလစာ မှာ US$ ၁,၄၃၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်းတစ်ဦး၏ လစာ မှာ US$ ၁,၃၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ်မှာအောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၂.၂၈၅၆ |
| (ခ) | အသုံးစရိတ် | ၁.၃၇၅၉ |
| (ဂ) | အသားတင်အမြတ် | ၀.၉၀၉၇ |

၈။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (၆နှစ်မြောက်) တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၃၀၃,၂၂၁ နှင့် ကုန်သွယ်လုပ်ငန်းခွန် US$ ၁၁၄,၂၈၀ ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၇)နှစ် ဖြစ်၍ အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၈ ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (နောက်ဆက်တွဲ-က)**

ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည်နှောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား ၁၂ ဦး၊ နိုင်ငံခြားသားပညာရှင် ၁ ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ ပြည်လမ်း၊ အမှတ် (၄၉၇)၊ ဒိုင်းမွန်းကွန်ဒို၊ တိုက်အမှတ်(E)၊ ပထမထပ်အား တစ်နှစ်လျှင် (၁၈,၀၀၀,၀၀၀) ကျပ် တစ်လလျှင် (၁၅) သိန်း (1sqft=3200 ကျပ်၊ 1sqm=32327 ကျပ်နှုန်း) ဖြင့် ၂၀၁၅ ခုနှစ်မှ ၂၀၁၆ ခုနှစ်အထိ ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၂၇ ရက် နေ့တွင် ကျင်းပပြုလုပ်ခဲ့သောရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ်(၅၄/၂၀၁၅) ဆုံးဖြတ်ချက်အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြထားပါသည်။

(ခ) **ပြန်ကြားရေးဝန်ကြီးဌာန(နောက်ဆက်တွဲ-ခ)**
ဆွစ်ဇာလန်နိုင်ငံ Ringer AG Co., Ltd မှ ၄၀%၊ မြန်မာနိုင်ငံ Information Matrix Co.,Ltd မှ ၆၀% ထည့်ဝင်ကာ Duwun Web Portal (သတင်းဝက်ဆိုက်) လုပ်ငန်းကို နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း နှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ဂ) **ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန(နောက်ဆက်တွဲ-ဂ)**
IM Ringier Co., Ltd. မှ ဆောင်ရွက်မည့် Web Portal (သတင်းဝက်ဘ်ဆိုက်) လုပ်ငန်းသည် မြန်မာနိုင်ငံအတွင်းရှိ အင်တာနက်သုံးစွဲသူ ပြည်သူလူထု အား Entertainment ၊ Knowledge၊ News Content တင်ဆက်ပေးမည့် သတင်း ဝက်ဘ်ဆိုက် ဖြစ်ပါသဖြင့် သက်ဆိုင်ရာဆက်သွယ်ရေး အော်ပရေတာများနှင့် ညှိနှိုင်း ဆောင်ရွက်သွားရမည့် လုပ်ငန်းဖြစ်ပြီး၊ Content နှင့် ပတ်သက်၍ သဘောထား မှတ်ချက်ပြုရန်မရှိပါကြောင်း ပြန်ကြားထားပါသည်။

(ဃ) **မြန်မာနိုင်ငံကွန်ပျူတာပညာရှင်အသင်း (နောက်ဆက်တွဲ-ဃ)**
ဆွစ်ဇာလန်နိုင်ငံ Ringier AG Co., Ltd. နှင့် မြန်မာနိုင်ငံ Imformation Matrix Co., Ltd. တို့ပူးပေါင်း၍ ရန်ကုန်မြို့တွင် တည်ထောင်ဖွင့်လှစ်မည့် IM Ringier Co., Ltd. နှင့် ပက်သက်ပြီး ၂၀၁၅ခုနှစ်၊ ဒီဇင်ဘာလ(၂၃) ရက်နေ့တွင် ကျင်းပပြုလုပ် သော မြန်မာနိုင်ငံကွန်ပျူတာပညာရှင်အသင်း၏ အလုပ်အမှုဆောင်အဖွဲ့ အထူး အစည်းအဝေး ဆုံးဖြတ်ချက်အရ ကွန်ပျူတာနည်းပညာရှုထောင့်အရ သဘောထား မှတ်ချက်ပေးရန် မရှိပါကြောင်း ပြန်ကြားထားပါသည်။

(င) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-င)**
အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေးထိခိုက်မှုများ ရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များ အား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်း ဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်အသုံးပြုခြင်း၊ အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေး ဆိုင်ရာတာဝန်ခံမှု (CSR) အား အမြတ်ငွေ ၏ ၁% ကို အသုံးပြုရန် အပါအဝင် ကတိ ကဝတ်များအား လုပ်ငန်းစီမံချက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန်၊ စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြရန်နှင့် အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်း ထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်း မျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ EMP အစီရင်ခံစာကိုရေးဆွဲ တင်ပြထားပြီး ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သဘော ထားမှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများကို လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။)**

၁၀။ ငွေကြေးအထောက်အထားများအဖြစ် UBS AG Switzerland ဘဏ်မှ Ringier AG ၏ ငွေကြေးခိုင်မာမှုရှိကြောင်းထောက်ခံချက် နှင့် Information Matrix Co., Ltd. အမည်ဖြင့် ကမ္ဘောဇ ဘဏ် (ကျွန်းတောလမ်းဘဏ်ခွဲ) ၌ ၂၀၁၅ ခုနှစ်၊ ဇူလိုင် လ ၁ ရက်နေ့ ရက်စွဲဖြင့် မြန်မာ ကျပ်ငွေ (၉.၃၃၅ သန်း) ရှိကြောင်း တင်ပြထားပါသည်။

၁၁။ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးအတွက် မီးသတ်ဆေးဘူးများ၊ သဲအိတ်များ၊ ရေလှောင်ကန်များထားရှိမည်ဖြစ်ပြီး၊ ဝန်ထမ်းများအား မီးသတ်သင်တန်းပေးခြင်း ဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၁၂။ အလုပ်သမားသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်ဆောင်ရွက်မည့်အစီအစဉ်၊ စက်ရုံဝန်ထမ်းများအတွက် လစာဝင်ငွေခွန်ပေးဆောင်မည့်အစီအစဉ်၊ လျှပ်စစ်ဓါတ်အားသုံးစွဲမှု အစီအမံတို့ကို တင်ပြထားပြီး လူမှုဘဝသာယာဝပြောရေး (Corporate Social Responsibility - CSR) အတွက် နှစ်စဉ် အသားတင်အမြတ် ၏ ၁ % ထားရှိ ဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၅ ရက်နေ့တွင် ကျင်းပပြုလုပ်သော (၃၆/၂၀၁၅)အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၄။ **စိစစ်တင်ပြချက်**

(က) Ringier AG Co., Ltd. သည် ဆွစ်ဇာလန်နိုင်ငံ ဇူးရစ်မြို့တွင် အခြေစိုက်သည့် **နိုင်ငံတကာသတင်းစာနှင့် digital news** များ လုပ်ကိုင်သည့် ကုမ္ပဏီ ဖြစ်၍ Information Matrix Co., Ltd. သည် မြန်မာနိုင်ငံတွင် ၂၀၀၀ ခုနှစ်မှစ၍ **နည်းပညာဝန်ဆောင်မှုလုပ်ငန်းများ** (e-Government Software ရေးသားခြင်း၊ website နှင့် web application များရေးသားခြင်း) နှင့် **သတင်းမီဒီယာလုပ်ငန်း** (7 Day နေ့စဉ်ထုတ် သတင်းစာနှင့် အပတ်စဉ်ထုတ် ဂျာနယ်၊ Internet ဂျာနယ်၊ မြန်မာ People မဂ္ဂဇင်း၊ Crossroad စီးပွားရေးမဂ္ဂဇင်း ထုတ်ဝေခြင်း)များ ဆောင်ရွက်လျက်ရှိသည့် ကုမ္ပဏီဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် Information Matrix ဘက်မှ ပြည်တွင်း ဈေးကွက်နှင့်စပ်လျဉ်းသည့်အချက်အလက်များ ထောက်ပံ့ခြင်း၊ ကုမ္ပဏီ၏ လက်ရှိ ထုတ်ဝေလျက်ရှိသည့် 7 Day နေ့စဉ်ထုတ် သတင်းစာနှင့် အပတ်စဉ် ထုတ်ဂျာနယ်၊ Internet ဂျာနယ်၊ မြန်မာ People မဂ္ဂဇင်းတို့မှ သတင်း၊ ဆောင်းပါး၊ ဓာတ်ပုံ၊ ဗွီဒီယိုများ ထောက်ပံ့ပေးခြင်း၊ ရုံးခန်းနေရာနှင့် လုပ်ငန်းကို လည်ပတ်နိုင်ရန် Operation Management ကိစ္စများကို တာဝန်ယူ ဆောင်ရွက်မည်ဖြစ်ပြီး Ringier AG ဘက်မှ website အတွက် နည်းပညာနှင့် newsroom management အတွက်လိုအပ်သော ကျွမ်းကျင်ပညာရှင်များထောက်ပံ့ပေးခြင်း (software installation၊ CMS အသစ် ပြုလုပ်ရန်အတွက် လိုအပ်သော ငွေကြေး လိုင်စင်ကြေးများ စိုက်ထုတ်ပေးခြင်း၊ နည်းပညာများလွှဲပြောင်းပေးခြင်း)၊ Hosting ကိစ္စများ၊ digital တတ်ကျွမ်းမှု Skill Set များကို ရင်းနှီးစိုက်ထုတ်မည်ဖြစ်ကြောင်းစိစစ်ရပါသည်။

(ဂ) အဆိုပြုလွှာတင်ပြလာခြင်းအား ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၂၃ ရက်နေ့တွင် ကျင်းပသော(၁၈/၂၀၁၅) ကြိမ်မြောက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးသို့ တင်ပြခဲ့ပြီးအစည်းအဝေးမှ ကွန်ပျူတာပညာရှင်အသင်းနှင့်တွေ့ဆုံဆွေးနွေး၍ ဆက်လက်ဆောင်ရွက်ရန် ဆုံးဖြတ်ချက်အရ ကွန်ပျူတာပညာရှင်အသင်းသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ပြီး ကွန်ပျူတာပညာရှင်အသင်းမှ ကွန်ပျူတာနည်းပညာ ရှုထောင့်အရ သဘောထားမှတ်ချက်ပေးရန် မရှိပါကြောင်းပြန်ကြားထားပါသည်။

(ဃ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၁၄ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ အရ Web Portal (သတင်းဝက်ဘ်ဆိုက်) လုပ်ငန်း သည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်မပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများစာရင်း၊ နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများစာရင်းတွင် ပါဝင်ခြင်းမရှိကြောင်း၊ သတင်းမီဒီယာ ဥပဒေ၊ ပုံနှိပ်ခြင်းနှင့်ထုတ်ဝေခြင်း လုပ်ငန်းဥပဒေတို့အရ ဆောင်ရွက်နိုင်သည့် လုပ်ငန်းဖြစ်သည်ကို တွေ့ရှိရပါကြောင်း စိစစ်တင်ပြအပ်ပါသည်။

(င) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက်လိုအပ်သော ရုံးသုံး ပစ္စည်း၊ ပရိဘောဂများအား ပြည်တွင်းမှ ဝယ်ယူအသုံးပြုမည်ဖြစ်ကြောင်း၊ ပြည်ပမှ စက်ပစ္စည်းကိရိယာများ တင်သွင်းရန်မရှိကြောင်းစိစစ်တင်ပြအပ်ပါသည်။

(စ) ပြည်တွင်းဝန်ထမ်း (၁၂)ဦး နှင့် ပြည်ပ ဝန်ထမ်း (၁)ဦး၊ စုစုပေါင်း ဝန်ထမ်း (၁၃) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။ အဆိုပါလုပ်ငန်းသည် အလုပ်အကိုင် ဖန်တီးပေးနိုင်မှုနည်းပါးသော်လည်း မီဒီယာလုပ်ငန်းသည် နည်းပညာပိုင်း တိုးတက်လာနိုင်ခြင်း၊ သတင်းမီဒီယာ လုပ်ငန်းများအတွက် အကျိုးဖြစ်ထွန်းစေခြင်း၊ လုပ်ငန်းရှင်များအနေဖြင့် မိမိတို့လုပ်ငန်းများအား စရိတ်စက သက်သာစွာဖြင့် ဈေးကွက်တွင် တင်ပြနိုင်ခြင်း စသဖြင့် အကျိုးကျေးဇူးများ ရရှိနိုင်ကြောင်း၊ ပြန်ကြားရေးဝန်ကြီးဌာနသို့ သတင်းအေဂျင်စီလိုင်စင် လျှောက်ထားရန် လိုအပ်ပါကြောင်း စိစစ်တင်ပြအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ IM Ringier Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Web Portal (သတင်းဝက်ဘ်ဆိုက်) လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

နောက်ဆက်တွဲ(က)

တိုင်းဒေသကြီးအစိုးရအဖွဲ့ စာအမှတ်.၃၃၅၅ ရက်စွဲ၊ ၄.၁၂.၁၅ ရန်ကုန်တိုင်းဒေသကြီး

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာ လ ၃ ရက်

M4 - 828
7.12.2015

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅. ၁၁. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၅(အ)/ ၀၁၀ / ၂၀၁၅ (၃၇၅)

၁။ ဆွစ်ဇာလန်နိုင်ငံ Ringier AG Co., Ltd. မှ ၄၀%၊ မြန်မာနိုင်ငံ Information Matrix Co., Ltd. မှ ၆၀% ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားကုမ္ပဏီ IM Ringier Co., Ltd. တည်ထောင်၍ တိုက်အမှတ်(E)၊ ပထမထပ်၊ ဗိုင်းမွန်းကွန်ဒို၊ အမှတ်(၄၉၇)၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့တွင် မြန်မာနှင့် ကမ္ဘာတစ်ဝန်းမှ ဖျော်ဖြေရေး၊ အားကစား၊ Lifestyle Fashion၊ ကျန်းမာရေးအထူးဆောင်းပါးနှင့် သတင်းများကို သွက်လက်လျင်မြန်စွာ တင်ပြပေးခြင်း၊ မြန်မာနိုင်ငံအတွင်းရှိ အင်တာနက်အသုံးပြုသူ စာဖတ်ပရိတ်သတ်များ အတွက် entertainment၊ knowledge နှင့် news content များကို တပ်ဆင်ပေးမည့် Web Protal (သတင်းဝက်ဘ်ဆိုက်) လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်ပဝန်ထမ်း(၁)ဦး၊ ပြည်တွင်းလုပ်သားအင်အား(၁၂)ဦး၊ စုစုပေါင်း(၁၃)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ကမာရွတ်မြို့နယ်၊ ပြည်လမ်း၊ အမှတ်(၄၉၇)၊ ဗိုင်းမွန်းကွန်ဒို၊ တိုက်အမှတ်(E)၊ ပထမထပ်အား တစ်နှစ်လျှင် (၁၈၀၀၀၀၀၀/-)၊ တစ်လလျှင်(၁၅)သိန်း (1sqft=3200 ကျပ်၊ 1sqm=32327ကျပ်)နှုန်းဖြင့် (၂၀၁၅)ခုနှစ်မှ (၂၀၁၆)ခုနှစ်အထိ ငှားရမ်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသည်။

D/2015/Cabinet/54.(5)

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၂၇. ၁၁. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၅၄/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၅၃)အရ IM Ringier Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

အတွင်းရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ကမာရွတ်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
IM Ringier Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ(ခ)

ပူးတွဲ
၁

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပြန်ကြားရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

MY-622
29.9.15

စာအမှတ်၊ ၃-၄(၉/၂၀၁၅)/၃၈၇
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၂၉ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၂၁-၉-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရကာ-၅(အ)/၀၁၀/၂၀၁၅(၃၀၂)

၁။ ဆွစ်ဇာလန်နိုင်ငံ Ringier AG Co.,Ltd မှ ၄၀%၊ မြန်မာနိုင်ငံ Information Matrix Co.,Ltd မှ ၆၀% ထည့်ဝင်ကာ Duwum Web Portal Co.,Ltd တည်ထောင်၍ Web Portal (သတင်းဝက်ဘ်ဆိုက်) လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မတီမှ ရည်ညွှန်းပါစာဖြင့် တောင်းခံခဲ့ ပါသည်။

၂။ အဆိုပါကိစ္စနှင့် စပ်လျဉ်း၍ ပြန်ကြားရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( တင့်ဆွေ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

Information Matrix Co., Ltd

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ဆသန/၃-၀၂/၀၀၄(၂၀၁၅/ ၃၂၇၀)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၂၄ ရက်

NPT-5755
28.12.15

သို့

M4-878
29.12.2015

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**အကြောင်းအရာ။** <u>**သဘောထားမှတ်ချက်တောင်းခံသည့်ကိစ္စ**</u>

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅-၁၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/၁၁၀/၂၀၁၅(၃၇၇)

၁။ မြန်မာနိုင်ငံ Information Matrix Co., Ltd. မှ ၆၀ % နှင့် ဆွစ်ဇာလန်နိုင်ငံ Ringier AG Co., Ltd. မှ ၄၀ % ထည့်ဝင်၍ IM Ringier Co., Ltd. အမည်ဖြင့် တည်ထောင်ထားသည့် ဖက်စပ်နိုင်ငံခြားကုမ္ပဏီမှ Web Portal (သတင်းဝက်ဘ်ဆိုက်) လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာမှုအပေါ် ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ အဆိုပါ IM Ringier Co., Ltd. မှ ဆောင်ရွက်မည့် Web Portal (သတင်းဝက်ဘ်ဆိုက်) လုပ်ငန်းသည် မြန်မာနိုင်ငံအတွင်းရှိ အင်တာနက်သုံးစွဲသူ ပြည်သူလူထုအား Entertainment ၊ Knowledge ၊ News Content တင်ဆက်ပေးမည့် သတင်းဝက်ဘ်ဆိုက် ဖြစ်ပါသဖြင့် သက်ဆိုင်ရာ ဆက်သွယ်ရေး အော်ပရေတာများနှင့် ညှိနှိုင်းဆောင်ရွက်သွားရမည့်လုပ်ငန်းဖြစ်ပြီး၊ Content နှင့် ပတ်သက်၍ ဤဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက်ပြုရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

**ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)**
( ခင်မောင်သက်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူ-

- ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
- ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
- IM Ringier Co., Ltd.
- ရုံးလက်ခံ
- မျှော။

SaThaNa2-02-004.doc

နောက်ဆက်တွဲ-ဃ


MCPA မြန်မာနိုင်ငံကွန်ပျူတာပညာရှင်အသင်း

Myanmar Computer Professionals Association


M4-871
24.12.15

စာအမှတ်၊ မကပ/စီမံ- ၂၀၁၅/ ၀၃၅
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ(၂၃) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်လည်ပေးပို့ခြင်း။

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၅ခုနှစ်၊ ဒီဇင်ဘာလ (၁၆) ရက် ရက်စွဲပါစာအမှတ် – ရက–၅(အ) / ၀၁၀/ ၂၀၁၅ (၄၅၃)။

ဆွစ်ဇာလန်နိုင်ငံ Ringier AG Co.,Ltd. နှင့် မြန်မာနိုင်ငံ information Matrix Co.,Ltd. တို့ပူးပေါင်း၍ ရန်ကုန်မြို့တွင် တည်ထောင်ဖွင့်လှစ်မည့် IM Ringier Co.,Ltd. နှင့် ပတ်သက်ပြီး မြန်မာနိုင်ငံကွန်ပျူတာပညာရှင်အသင်း၏ သဘောထားမှတ်ချက်အား ပြန်လည်ပေးပို့ပါရန် အကြောင်းကြားလာခြင်းအား ၂၀၁၅ခုနှစ်၊ ဒီဇင်ဘာလ(၂၃) ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံကွန်ပျူတာပညာရှင်အသင်း၏ အလုပ်အမှုဆောင်အဖွဲ့ အထူးအစည်းအဝေးဆုံးဖြတ်ချက်အရ "ကွန်ပျူတာနည်းပညာရှုထောင့်အရ သဘောထားမှတ်ချက်ပေးရန် မရှိပါကြောင်း" ပြန်လည်အကြောင်းကြားအပ်ပါသည်။

လေးစားစွာဖြင့်

(ရဲရင့်ဝင်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံကွန်ပျူတာပညာရှင်အသင်း

မိတ္တူကို
၁။ ရုံးလက်ခံ


Ground Floor, Building 9, Myanmar ICT Park, Hlaing Universities' Campus, Hlaing Township, Yangon, Myanmar. Phone: +95-1-652276 | www.mcpamyanmar.org | office@mcpamyanmar.org

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPT-5282
20.11.15

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၃၁၉၉ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၁၇ ရက်

M4-777
23.11.15

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅-၁၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက -၅(အ)/၁၁၀/၂၀၁၅(၃၇၆)

၁။ ဆွစ်ဇာလန်နိုင်ငံ Ringer AG Co., Ltd. မှ ၄၀ % နှင့် မြန်မာနိုင်ငံ Information Matrix Co., Ltd. မှ ၆၀% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားကုမ္ပဏီ IM Ringer Co., Ltd. တည်ထောင်ကာ တိုက်အမှတ်(E)၊ ပထမထပ်၊ ဒိုင်းမွန်းကွန်ဒို၊ အမှတ် (၄၉၇)၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့တွင် မြန်မာနှင့်ကမ္ဘာတစ်ဝန်းမှဖျော်ဖြေရေး၊ အားကစား၊ Lifestyle၊ Fashion၊ ကျန်းမာရေး အထူးဆောင်းပါးနှင့် သတင်းများကို သွက်လက်လျင်မြန်စွာ တင်ပြပေးခြင်း၊ မြန်မာနိုင်ငံအတွင်းရှိ အင်တာနက်အသုံးပြုသူ စာဖတ်ပရိတ်သတ်များအတွက် entertainment ၊ knowledge နှင့် news content များကိုတင်ဆက်ပေးမည့် Web Portal (သတင်းဝက်ဘ်ဆိုက်) လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့် ပတ်သက်၍ စိစစ်ပြီးဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြုစီမံကိန်းလုပ်ငန်းသည် သတင်းဝက်ဆိုက်လုပ်ငန်း ဆောင်ရွက်သွားမည်ဖြစ်သောကြောင့် ပတ်ဝန်းကျင်အား သိသာထင်ရှားသောထိခိုက်စေမှုမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ IM Ringer Co., Ltd. မှ DUWAN Web Portal (သတင်းဝက်ဘ်ဆိုက်) လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်မှုများရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်အသုံးပြုခြင်း၊ အဆိုပြုလွှာ

တွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု( CSR )အား အမြတ်ငွေ၏၁ % ကို အသုံးပြုရန်အပါအဝင် ကတိကဝတ်များအား လုပ်ငန်းစီမံချက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန်၊

(ခ) စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(Environmental Management Plan- EMP) ကိုရေးဆွဲတင်ပြရန်နှင့် အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာတိုင်းဒေသကြီး/ ပြည်နယ်အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ခင်မောင်ရီ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ကန့်သတ်

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | IM Ringier Co.,Ltd. | Information Matrix Co., Ltd. (Myanmar)<br>Representative By | |
| | | (၁) ဦးသောင်းစုငြိမ်း<br>ဒါရိုက်တာ<br>မြန်မာ<br>၁၂/ဒဂန(နိုင်) ၀၀၁၀၈၆ | အမှတ်(၅၂၀)၊C/၆(အေ)၊ ကမ္ဘာအေးဘုရားလမ်း၊ ကိုယ့်မင်း ကိုယ့်ချင်းရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | | (၂) ဒေါ်စုစုစိုးညွန့်<br>ဒါရိုက်တာ<br>မြန်မာ<br>၁၀/မဒန(နိုင်) ၀၀၄၁၆၈ | အမှတ်(၅၂၀)၊C/၆(အေ)၊ ကမ္ဘာအေးဘုရားလမ်း၊ကိုယ့်မင်း ကိုယ့်ချင်းရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | | (၃) ဒေါ်စုငြိမ်းအေး<br>ဒါရိုက်တာ<br>မြန်မာ<br>၁၂/မဂဒ(နိုင်) ၀၃၁၀၃၄ | အမှတ်(၂၅၀)၊ ခရပင်လမ်း၊ ၂၃ ရပ်ကွက်၊ သုဝဏ္ဏ၊ သင်္ဃန်းကျွန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | | Ringier AG Co.,Ltd. (Switzerland)<br>Representative By | |
| | | (၄) Mr. Robin Lingg<br>Director<br>Switzerland<br>X1901952 | Ramistrassee 18, 8001 Zurich, Switzerland |
| | | (၅) Mr. Adrian Dudle<br>Director<br>Switzerland<br>X2288250 | Gheistrassee 1, 8802 Kilchberg, Switzerland |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ် - ၀၉-၅၀၁၅၀၉၉,၀၁-၅၁၂၈၈၇

- Fax: ၀၁-၅၁၃၅၁၉

| | | |
|---|---|---|
| ၂။ ဆက်သွယ်ရမည့်လိပ်စာအပြည့်အစုံ | - | တိုက်အမှတ် (E)၊ ပထမထပ်၊ ဒိုင်းမွန်းကွန်ဒို၊ အမှတ် (၁၄၇)၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| ၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး | - | ဦးသောင်းစုငြိမ်း(ဒါရိုက်တာ) |
| ၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | မြန်မာနှင့်ကမ္ဘာတစ်ဝန်းမှ ဖျော်ဖြေရေး၊ အားကစား၊ Lifestyle ၊ Fashion၊ ကျန်းမာရေး အထူးဆောင်းပါးနှင့် သတင်းများကို သွက်လက်လျင်မြန်စွာ တင်ပြပေးခြင်း၊ မြန်မာနိုင်ငံ အတွင်းရှိ အင်တာနက်အသုံးပြုသူ စာဖတ်ပရိသတ်များအတွက် Entertainment၊ knowledge နှင့် news content များကို တင်ဆက်ပေးမည့် Web Portal (သတင်းဝက်ဘ်ဆိုက်) လုပ်ငန်း |
| ၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ | - | - |
| ၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် | - | - |

PROPOSAL OF THE PROMOTER

JV FOREIGN INVESTMENT

IN

THE REPUBLIC OF THE UNION OF MYANMAR

# WEB PORTAL PROJECT

AT

YANGON

SUBMITTED BY

## IM RINGIER
## COMPANY LIMITED

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပြန်ကြားရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၃-၄(၉/၂၀၁၅) /၃၈၅
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၂၉ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၉-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၅(အ)/၀၁၀/၂၀၁၅(၃၀၂)

၁။ ဆွစ်ဇာလန်နိုင်ငံ Ringier AG Co.,Ltd မှ ၄၀%၊ မြန်မာနိုင်ငံ Information Matrix Co.,Ltd မှ ၆၀% ထည့်ဝင်ကာ Duwum Web Portal Co.,Ltd တည်ထောင်၍ Web Portal (သတင်းဝက်ဘ်ဆိုက်) လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မတီမှ ရည်ညွှန်းပါစာဖြင့် တောင်းခံခဲ့ ပါသည်။

၂။ အဆိုပါကိစ္စနှင့် စပ်လျဉ်း၍ ပြန်ကြားရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( တင့်ဆွေ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို
Information Matrix Co., Ltd

Director General

Myanmar Investment Commission

Yangon

Date: October 2015

Subject: **Submission of Investment Proposal to Myanmar Investment Commission**

Our IM Ringier Co., Ltd is JV foreign company incorporated with Myanmar Company, Information Matrix and Swiss Company, Ringier AG. We have the intention to establish Web Portal Project in Yangon Region.

The investment asset will include **USD 1.695065 million** (United States Dollar One Million Six Hundred and Ninety Five Thousand Sixty Five only) in which **USD 550,000** (United States Dollar Five Hundred and Fifty Thousand only) will be the loan in cash.

Therefore, we would like to submit the Investment Proposal (4) copies of Web Portal Project to scrutinize according to the Foreign Investment Law.

Respectively yours

U Thaung Su Nyein

The Registrar

To

Chairman
Myanmar Investment Commission
The Republic of the Union of Myanmar
Yangon

Date: October 2015

Subject: **Application for issue of Permit for JV Foreign Investment in the Republic of the Union of Myanmar**.

Dear Sir,

1. We have pleasure and honor to submit this application for the issue of the permit to establish the Web Portal Project with the JV investment of Swiss and Myanmar. Our company is formed by the directors representing to Information Matrix Co., Ltd and Ringier AG. We have the intention to form a Web Portal in Myanmar. The Company desires to obtain an investment permit under the Republic of the Union of Myanmar Foreign Investment Law. The company has share holding of 60% contributed by Information Matrix Co., Ltd and 40 % contributed by Ringier AG.

2. In accordance with the Foreign Investment Law of the Republic of the Union of Myanmar, which was enacted in 2012, IM Ringier Company Limited is now applying for issue of Permit under Section 9 of Foreign Investment Law.

3. IM Ringier Co., Ltd's Memorandum of Association contains an objective to provide Website Services to launch Web Portal. As per our business intention, we hereby submit the proposal to establish a Portal in Yangon, Myanmar.. We have made a detailed account of our project together with financial projections.

4. The investment asset will include **USD 1.695065 million** (United States Dollar One Million Six Hundred and Ninety Five Thousand Sixty Five only) in which **USD 550,000** (United States Dollar Five Hundred and Fifty Thousand only) will be the loan in cash.

5. We attached the following relevant documents with the proposal.
    a. Reference for the business and financial standing; (Bank Grantee or Bank Recommendation)
    b. Copy of Memorandum of Association and Article of Association
    c. JV Agreement between Information Matrix Co., Ltd and Ringier AG
    d. USD 550,000 Loan Agreement
    e. Various Projections of different sectors and phases of the project
    f. Passport copies of all directors in the company

6. Furthermore, we are willing to apply for the following exemptions or relief from taxation allowed as per Section 12 of the Foreign Investment Law.
   (a) Exemption from income tax for a period extending to 5 consecutive years inclusive of the year of commencement of services;
   (b) Exemption or relief from income tax on profit of the business if we maintained in a reserve fund and reinvested within one year;
   (c) Right to pay income tax payable in the State on behalf of foreigner employees and right to deduct such payment from the assessable income;
   (d) Right to pay income tax on the income of foreigner employees at the same rate for local citizens;
   (e) Right to deduct from the assessable income for research and development related to the business in Myanmar;
   (f) Right to carry forward and set-off up to 3 consecutive years from the year the loss is sustained within 2 years immediately following the enjoyment of exemption or relief from income tax;

7. In order to perform the investment project, the investor wishes to apply for Myanmar Investment Commission Permit under the Foreign Investment Law.

8. Therefore, the investment proposals are presented for necessary scrutiny for issue of permit for JV foreign investment.

Respectfully yours

U Thaung Su Nyein

Director General

Myanmar Investment Commission

Yangon

Date: October 2015

Subject: **Submission of Investment Proposal to Myanmar Investment Commission**

Our IM Ringier Co., Ltd is JV foreign company incorporated with Myanmar Company, Information Matrix and Swiss Company, Ringier AG. We have the intention to establish Web Portal Project in Yangon Region.

The investment asset will include **USD 1.695065 million** (United States Dollar One Million Six Hundred and Ninety Five Thousand Sixty Five only) in which **USD 550,000** (United States Dollar Five Hundred and Fifty Thousand only) will be the loan in cash.

Therefore, we would like to submit the Investment Proposal (4) copies of Web Portal Project to scrutinize according to the Foreign Investment Law.

Respectively yours

U Thaung Su Nyein

The Registrar

To

Chairman
Myanmar Investment Commission
The Republic of the Union of Myanmar
Yangon

Date: October 2015

Subject: **Explanation of Corporate Social Responsibility (CSR)**

Our IM Ringier Co., Ltd is JV foreign company with Myanmar and Swiss. We have the intention to establish Web Portal Project in Yangon Region

We allocate Corporate Social Responsibility (CSR) as 1% of the Company's net profit. CSR will be used for donation to Hospitals, National Development Program and the needy social society around the plant.

Respectively yours

U Thaung Su Nyein

To

Chairman
Myanmar Investment Commission
The Republic of the Union of Myanmar
Yangon

Date: October 2015

Subject: **Undertaking of Fire Protection**

Our IM Ringier Co., Ltd is JV foreign company with Myanmar and Swiss. We have the intention to establish Web Portal Project in Yangon Region

For the fire protection, we will allocate the machines in a neat and tidy position, and electrical wiring will be well placed and checked by the certified persons in every six months not to occur of any electrical fire.

We will follow the instruction of Yangon Region Fire Brigade. We will give the fire fighting training to our employees in order to mange in case of fire. Many units of fire extinguishers will be installed in many places in the office.

Respectively yours

U Thaung Su Nyein

To

Chairman
Myanmar Investment Commission
The Republic of the Union of Myanmar
Yangon

Date: October 2015

Subject: **Undertaking of Employees' Welfare and Deduction of Salary Tax from Employees**

Our IM Ringier Co., Ltd is JV foreign company with Myanmar and Swiss. We have the intention to establish Web Portal Project in Yangon Region

Regarding the employees' welfare, we will abide by the Minimum Wages Law, Labor Laws, Social Security Law and other related laws in force.

We surely deduct the tax from the salary of employees, and will duly deposit to the Internal Revenue Department.

Respectively yours

U Thaung Su Nyein

To

Chairman
Myanmar Investment Commission
The Republic of the Union of Myanmar
Yangon

Date: October 2015

Subject: **Undertaking of Environmental Protection**

Our IM Ringier Co., Ltd is JV foreign company with Myanmar and Swiss. We have the intention to establish Web Portal Project in Yangon Region

The JV Company Office will be situated in Building E, 1st Floor, Diamond Condo, No. 497, Pyay Road, Kamaryut Township Yangon, Myanmar. Our will produce no waste which may effect to the environment.

.

Respectively yours

U Thaung Su Nyein

# ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု
# ပြုလုပ်ရန် ကမကထ ပြုသူ၏ ဆောင်ရွက်ရန်
# အဆိုပြုချက်

# PROPOSAL OF THE PROMOTER TO MAKE
# FROREIGN INVESTMENT IN THE
# REPUBLIC OF THE UNION OF MYANMAR

Form (1)

Proposal of the Promoter to make Foreign
Investment in the Republic of the Union of Myanmar

To

The Chairman
Myanmar Investment Commission
Yangon

*Reference No.*
*Date:* ***October 2015***

I do apply for the permission to make investment in the Republic of the Union of Myanmar in accordance with Foreign Investment Law by furnishing the following particulars:-

1. The Investor's or Promoter's

| | |
|---|---|
| (a) Name | **U Thaung Su Nyein** |
| (b) Father's name | **U Win Aung** |
| (c) CSC No. | **12/DaGaNa (N) 001086** |
| (d) Citizen | **Myanmar** |
| (e) Address | |
| (i) Address in Myanmar | **No. 520 C/6A, Kabaraye Pagoda Road, Koemin Koechin Ward, Bahan Township, Yangon, Myanmar** |
| (ii) Residence abroad | **NIL** |
| (f) Parent company | **Information Matrix Co., Ltd** |
| (g) Type of business | **Services** |
| (h) Parent company's address | **Building E, 1st Floor, Diamond Condo, No. 497, Pyay Road, Kamaryut Township Yangon, Myanmar** |

2. If investment is to be made by joint-venture, the particulars of the persons wishing to participate in the joint-venture with the promoters:-

| | |
|---|---|
| (a) Name | **Mr. Robin William Lingg** |
| (b) Father's name | |
| (c) PP No. | **X1901952** |
| (d) Citizenship | **Swiss** |
| (e) Address | |
| (i) Address in Myanmar | **NIL** |
| (ii) Residence abroad | **Rãmistrassee 18, 8001 Zurich, Switzerland** |
| (f) Parent company | **Ringier AG** |
| (g) Type of business | **Media** |
| (h) Parent company's address | **Brühlstrasse 5, 4800 Zofingen, Switzerland** |

**Remark:** The following documents need to attach according to the above paragraph (1) and (2):-

(1) Company registration certificate (copy);
(2) National Registration Card (copy) and passport (copy);
(3) Evidence about the business and financial conditions of the participants of the proposed investment business;

3. Type of proposed investment business:-
(a) Manufacturing
(b) Service business related with manufacturing ....................................
(c) Service **Web Portal Business**
(d) Others ..............................................................................

**Remark**: Expressions about the nature of business with regard to the above paragraph (3)

4. Type of business organization to be formed:-
**(a)** One hundred percent ............................
(b) Joint Venture:
(i) Foreigner and citizen **Foreigner and Citizen**
(ii) Foreigner and Government department/organization .......................
(c) By contractual basis:
(a) Foreigner and citizen ..........................................................
(ii) Foreigner and Government department/organization .......................

**Remark**: The following information need to attach for the above Paragraph (4):-

(i) Share ratio for the authorized capital from abroad and local, names, citizenships, addresses and occupations of the directors; **See Appendix (A)**

(ii) Joint Venture Agreement (Draft) and recommendation of the Union Attorney General Office if the investment is related with the State;

(iii) Contract (Agreement) (Draft)

5. Particulars relating to company incorporation
**(a)** Authorized capital ...................... **USD 2,000,000 (United States Dollar Two Million only)**
**(b)** Type of share ........................... **Ordinary Share**
(c) Number of shares ...................... **2,000,000 Shares**
..........................................................................................

**Remark**: Memorandum of Association and Article of Association of the Company shall be submitted with regard to above paragraph 5. **Attached**

6. Particulars relating to capital of the investment business

| | |
|---|---|
| | **US$ (Million)** |
| (a) Amount/percentage of local capital to be contributed | **1.013759 60% of** |
| (b) Amount/percentage of foreign capital to be brought in | **0.681306 40 % of total investment** |
| Total | **1.695065 (including USD 0.55 Million Loan to IM Co. Ltd)** |
| (c) Annually or period of proposed capital to be brought in | **Three years** |
| (d) Last date of capital brought in | **2018** |
| (e) Proposed duration of investment | **20 years** .... |

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

## အိုင်အမ် ရိမ်းကျိုးရား ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက် ဥပဒေ နောက်ဆက်တွဲ ပထမ ဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇ (၂) တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့်မသက်ဆိုင်သောကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် **USD 2,000,000** /-(ကျပ် **US Dollar Two Million** တိတိ)ဖြစ်၍ ငွေကျပ် **USD 1** /-(ကျပ် **US Dollar One** တိတိ)တန် အစုရှယ်ယာပေါင်း (**2,000,000**) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်း တို့ကိုဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာ လက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ် များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏ တံဆိပ် ရိုက်နှိပ် ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ရှင်တစ်ဦး၏တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာတောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာ များက သတ်မှတ်သည့်အချိန်နှင့်နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက်အရစ်ကျ ပေးသွင်း စေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် (၂) ဦးထက်မနည်း (၁၀) ဦး ထက်မများစေရ။

ပထမ ဒါရိုက်တာများသည် -

(၁) **1. U Thaung Su Nyein**

(၂) **2. Daw Su Su Soe Nyunt**

(၃) **3. Daw Su Nyein Aye**

(၄) **4. Mr. Robin Lingg**

(၅) **5. Mr. Adrian Dudle**

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေးဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ညာက်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့ကပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သောအရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး (-)စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဉပဒေပုဒ်မ ၈၅ ပါပြဌာန်းချက်များကို လိုက်နာရန်တာဝန် ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့်အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့ သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေး ထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည်အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့်ဆုံးဖြတ်ချက် တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံးအတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကိုပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါချေးငှားသော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကိုအပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီ ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့်သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသောအာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ ထိုကဲ့သို့ မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက်ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း အဆိုပါ ပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း သင့်လျော်သလိုဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ်ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကိုဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့် ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆိုပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်းလိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများ အတွက်ပြေစာများ ပြုလုပ်ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့်စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီး မဆပ်နိုင်ခြင်းကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ ကိုယ်စားမည်သူက လက်မှတ် ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော်လျှောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံ ထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်)ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသောမည်သည့်အရာရှိသို့မဟုတ်ပုဂ္ဂိုလ်ကိုမဆိုအတိအကျဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသောအမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန်အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိ စေရန်အတွက် မည်သည့်ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီး ကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ်တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းဝေးကြီးနှင့်တစ်ဆယ့်ငါးလထက်မပိုသည့် အချိန်၌)ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့်အစုရှင်အရေအတွက် မတတ်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော ) အစုရှင်များ ကိုယ်တိုင်တတ်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေတွက်ဖြစ် စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအားခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဉာဏ်ပူဇော်ခများနှင့် အခကြေးငွေ များကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေးဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသို ထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်း ကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများကသင့်လျော်သည်ဟုထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများက ကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှ တစ်ပါး မည်သည့် အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (၁) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲ ဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင်အမည်၊နိုင်ငံသား၊နေရပ်နှင့်အကြောင်းအရာစုံလင်စွာပါသောဇယားတွင်လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လို လားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့်ယှဉ်တွဲ၍ပြထားသောအစုရှယ်ယာများ ကို ကုမ္ပဏီ၏ မတည် ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန်သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏<br>အမည်၊နေရပ်လိပ်စာနှင့်<br>အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| **1.** | **Information Matrix Co., Ltd, incorporated in Myanmar Represented by** | | **60%<br>15,000** | |
| | **(g) U Thaung Su Nyein<br>No. 520 C/6A, Kabaraye Pagoda Road, Koemin Koechin Ward, Bahan Township, Yangon<br>Merchant** | **Myanmar<br>12/DaGaNa<br>(N) 001086** | | |
| | **(h) Daw Su Su Soe Nyunt<br>No. 520 C/6A, Kabaraye Pagoda Road, Koemin Koechin Ward, Bahan Township, Yangon<br>Merchant** | **Myanmar<br>10/MaDaNa<br>(N) 004168** | | |
| | **(i) Daw Su Nyein Aye<br>No. 250, Khayay Pin Lane, Ward 23,Thuwunna, Thingangyun township, Yangon<br>Merchant** | **Myanmar<br>12/DaGaNa<br>(N) 031034** | | |
| **2.** | **Ringier AG, incorporated in Switzerland, Represented by** | | **40%<br>10,000** | |
| | **(a) Mr. Robin Lingg<br>Rãmistrassee 18, 8001 Zurich, Switzerland<br>Merchant** | **Swiss<br>X1901952** | | |
| | **(b) Mr. Adrian Dudle<br>Gheistrassee 1, 8802 Kilchberg, Switzerland<br>Merchant** | **Swiss<br>X2288250** | | |

ရန်ကုန်။ နေ့စွဲ၊ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ(  ) ရက်၊
အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင်
လက်မှတ်ရေးထိုးကြပါသည်။

**U Min Sein, B.Sc. R.A C.P.A., R.L**
**Advocate, (1699)**
**#07-Pansodan Office Tower**
**189-195 Pansodan Street,**
**Kyauktada Township, Yangon**
**Tel: 253272 / 391528**

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

## IM RINGIER COMPANY LIMITID

❖ ❖ ❖ ❖ ❖ ❖ ❖

I. The name of the Company is IM RINGIER COMPANY LIMITED.

II. The registered offfice of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is Ks. USD 2,000,000 /-(Kyats US Dollar Two Million Only ) divided into ( 2,000,000 ) shares of Ks. USD 1 /-(Kyats US Dollar One Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulation of the Company and the legislative provisions for the time being in force in this behalf.

**6. The Objective For Which The Company is established are**

**Digital publication of news, entertainment, sports and lifestyle etc and other digital businesses**

7. To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manner that the Company shall think fit.

**PROVISO** : Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so for as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| **1.** | **Information Matrix Co., Ltd, incorporated in Myanmar Represented by** | | **60%<br>15,000** | |
| | **(d) U Thaung Su Nyein<br>No. 520 C/6A, Kabaraye Pagoda Road, Koemin Koechin Ward, Bahan Township, Yangon<br>Merchant** | **Myanmar<br>12/DaGaNa<br>(N) 001086** | | |
| | **(e) Daw Su Su Soe Nyunt<br>No. 520 C/6A, Kabaraye Pagoda Road, Koemin Koechin Ward, Bahan Township, Yangon<br>Merchant** | **Myanmar<br>10/MaDaNa<br>(N) 004168** | | |
| | **(f) Daw Su Nyein Aye<br>No. 250, Khayay Pin Lane, Ward 23,Thuwunna, Thingangyun township, Yangon<br>Merchant** | **Myanmar<br>12/DaGaNa<br>(N) 031034** | | |
| **2.** | **Ringier AG, incorporated in Switzerland, Represented by** | | **40%<br>10,000** | |
| | **(a) Mr. Robin Lingg<br>Rãmistrassee 18, 8001 Zurich, Switzerland<br>Merchant** | **Swiss<br>X1901952** | | |
| | **(b) Mr. Adrian Dudle<br>Gheistrassee 1, 8802 Kilchberg, Switzerland<br>Merchant** | **Swiss<br>X2288250** | | |

Yangon Dated the **day of August 2015**

*It is hereby certified that the persons mentioned above put their signatures in my presence.*

**U Min Sein, B.Sc. R.A C.P.A., R.L**
**Advocate, (1699)**
**#07-Pansodan Office Tower**
**189-195 Pansodan Street,**
**Kyauktada Township, Yangon**
**Tel: 253272 / 391528**

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

**IM RINGIER** COMPANY LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

1. The regulations contained in Table 'A' in the first Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

   *(a) The mumber of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

   *(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is here by prohibited.*

## CAPITAL AND SHARES

3. The authorised capital of the Company is Ks. **USD 2,000,000** /- (Kyats **US Dollar Two Million** Only) divided into ( **2,000,000** ) shares of Ks. **USD 1** /- (Kyats **US Dollar One** Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulation of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made payable by instalments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Directors shall not be less than (2) and more than (10).

The First Directors shall be : -

(1) **U Thaung Su Nyein**
(2) **Daw Su Su Soe Nyunt**
(3) **Daw Su Nyein Aye**
(4) **Mr. Robin Lingg**
(5) **Mr. Adrian Dudle**

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least (-) shares in the Company in his or her own name and it shall be his duty to comply with the provision of Section (85) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determind, two shall form a quorum. If any question arising at any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

12. Any Director may at any time summon a meeting of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constitued.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power: -

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgages of the Company's property (present and future)as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit.

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time( not being more than fifteen month after the holding of the last preceding general meeting )and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital(not less than two members) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

18. The Directors shall cause to be kept proper books of account with respect to : -
    (1) *all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;*
    (2) *all sales and purchases of goods by the Company;*
    (3) *all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Mya.ımar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86 (C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING-UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

❖ ❖ ❖ ❖

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Article of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No: | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| **1.** | **Information Matrix Co., Ltd, incorporated in Myanmar Represented by** | | **60%**<br>**15,000** | |
| | **(a) U Thaung Su Nyein**<br>**No. 520 C/6A, Kabaraye Pagoda Road, Koemin Koechin Ward, Bahan Township, Yangon**<br>**Merchant** | **Myanmar**<br>**12/DaGaNa**<br>**(N) 001086** | | |
| | **(b) Daw Su Su Soe Nyunt**<br>**No. 520 C/6A, Kabaraye Pagoda Road, Koemin Koechin Ward, Bahan Township, Yangon**<br>**Merchant** | **Myanmar**<br>**10/MaDaNa**<br>**(N) 004168** | | |
| | **(c) Daw Su Nyein Aye**<br>**No. 250, Khayay Pin Lane, Ward 23,Thuwunna, Thingangyun township, Yangon**<br>**Merchant** | **Myanmar**<br>**12/DaGaNa**<br>**(N) 031034** | | |
| **2.** | **Ringier AG, incorporated in Switzerland, Represented by** | | **40%**<br>**10,000** | |
| | **(a) Mr. Robin Lingg**<br>**Rãmistrassee 18, 8001 Zurich, Switzerland**<br>**Merchant** | **Swiss**<br>**X1901952** | | |
| | **(b) Mr. Adrian Dudle**<br>**Gheistrassee 1, 8802 Kilchberg, Switzerland**<br>**Merchant** | **Swiss**<br>**X2288250** | | |

Yangon Dated the **day of August 2015**

*It is hereby certified that the persons mentioned above put their signatures in my presence.*

U Min Sein, B.Sc. R.A C.P.A., R.L
Advocate, (1699)
#07-Pansodan Office Tower
189-195 Pansodan Street,
Kyauktada Township, Yangon
Tel: 253272 / 391528